ACK and CO Services Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့်စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၄-၁-၂၀၁၉ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့ တင်ပြခြင်း | ၄/၂၀၁၉ (၂၁-၁-၂၀၁၉) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန | ၂၅-၁-၂၀၁၉ | ၄-၂-၂၀၁၉ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၂၉-၁-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | ၁၉-၂-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၄/၂၀၁၉ (၁၅-၃-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၅၉) ရက်** | | |

**အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု**

ကုမ္ပဏီအမည် ACK and CO Services Co., Ltd.

လုပ်ငန်းအမျိုးအစား ပညာရေးဝန်ဆောင်မှုလုပ်ငန်း

PAT အကြိမ်/ ရက်စွဲ ၄/၂၀၁၉ (၂၁-၁-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁။ | မန္တလေးတိုင်းဒေသကြီးနှင့် စစ်ကိုင်းတိုင်းဒေသကြီးတို့တွင် ဆောင်ရွက်မည့် မြေနေရာများ၏ မြေငှားစာချုပ်နှင့် မြေပိုင်ဆိုင်မှုအထောက်အထားများ တင်ပြရန်။ | ✓ | |
| ၂။ | ရန်ကုန်တိုင်းဒေသကြီးတွင် ဆောင်ရွက်မည့် မြေနေရာများ အတွက် မြေငှားဂရန်၊ မြေပိုင်ဆိုင်မှု အထောက်အထားများ စုစည်း၍ စာရင်းချုပ်ဖြင့် ဖော်ပြရန်နှင့် အဆောက်အဦပိုင်ရှင်၏ ပိုင်ဆိုင်မှုအထောက်အထား (ဆက်သွယ်ချက်) များ ပူးတွဲတင်ပြရန်။ | ✓ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ACK and CO Services Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - ACK and CO Services Co., Ltd.<br>- ဦးအောင်ချစ်ခင်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီးနှင့် စစ်ကိုင်းတိုင်းဒေသကြီးတို့ရှိ နေရာ ၆ နေရာ |
| ၃။ | မြေပိုင်ရှင်<br><br><br>မြေအကျယ်အဝန်း<br>အဆောက်အအုံအရေအတွက်<br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br>မြေ/အဆောက်အအုံငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဒေါ်အေးမြတ်မူ၊ ဒေါ်အိဟန်နီဌေး၊ ဒေါက်တာဟိန်းလတ်ဝင်း၊ ဦးဘုန်းဆွေ၊ ဒေါ်နိုင်နိုင်ဦး၊ ဒေါ်အိအိဇင်၊ ဒေါ်ခင်ခင်ဝင်း၊ ဦးလင်းထွန်းဦး၊ ဦးစောဝေ၊ ဒေါ်ကျော့ကျော်ဖုန်း၊ ဦးညီသူ၊<br>-<br>- တိုက်ခန်း (၇) ခန်းနှင့် အဆောက်အဦ (၅) လုံး<br>-<br><br><br>- |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၁,၈၅၄.၇၄၄ သန်း |
| | **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် (သန်း)** |
| | ငွေပမာဏ | ၅၀၀.၀၀၀ |
| | ရုံးသုံးပစ္စည်း | ၄၅၆.၂၅၃ |
| | ပရိဘောဂပစ္စည်း | ၆၁၀.၆၈၄ (အမေရိကန်ဒေါ်လာ ၀.၃၄၆ သန်း အပါအဝင်) |
| | စက်ပစ္စည်းကိရိယာ | ၇၃.၁၆၀ |
| | မော်တော်ကား | ၂၁၁.၆၄၇ |
| | **စုစုပေါင်း** | **၁,၈၅၄.၇၄၄** |

<table>
<tr><td>၇။</td><td>ဝန်ဆောင်မှုအမျိုးအစားနှင့် ဝန်ဆောင်ခနှုန်းထား</td><td>
<table>
<tr><th>စဉ်</th><th>အမျိုးအမည်</th><th>သင်တန်းကာလ (လ)</th><th>ဝန်ဆောင်ခနှုန်း (ကျပ်)</th></tr>
<tr><td>(က)</td><td>Construction Project Management</td><td>၁၈</td><td>၁၂,၀၀၀,၀၀၀</td></tr>
<tr><td>(ခ)</td><td>MBA & MSc</td><td>၁၈</td><td>၁၈,၀၀၀,၀၀၀</td></tr>
<tr><td>(ဂ)</td><td>Signature MBA</td><td>၁၈</td><td>၁၂,၀၀၀,၀၀၀</td></tr>
<tr><td>(ဃ)</td><td>BA (Hons) Business and Management</td><td>၁၂</td><td>၁၀,၅၀၀,၀၀၀</td></tr>
<tr><td>(င)</td><td>ICM Diploma</td><td>၆</td><td>၄၆၅,၀၀၀</td></tr>
<tr><td>(စ)</td><td>CICM Diploma</td><td>၆</td><td>၄၆၅,၀၀၀</td></tr>
<tr><td>(ဆ)</td><td>Diploma in Business IT</td><td>၂၄</td><td>၆,၆၀၀,၀၀၀</td></tr>
<tr><td>(ဇ)</td><td>Higher National Diploma in Business</td><td>၂၄</td><td>၆,၆၀၀,၀၀၀</td></tr>
<tr><td>(ဈ)</td><td>Higher National Diploma in Civil Engineering</td><td>၂၄</td><td>၇,၂၀၀,၀၀၀</td></tr>
<tr><td>(ည)</td><td>ABE-Diploma in Business Management</td><td>၆</td><td>၂,၆၅၀,၀၀၀</td></tr>
<tr><td>(ဋ)</td><td>English Subject Courses</td><td>၃</td><td>၂၄၀,၀၀၀</td></tr>
</table>
</td></tr>
<tr><td>၈။</td><td>ဝန်ထမ်းခန့်ထားမှု<br>သင်ကြားရေး</td><td>
<table>
<tr><th></th><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td></td><td>၃၈ ဦး</td><td>-</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>ကျပ်</td><td>၃,၅၀၀,၀၀၀</td><td></td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ်</td><td>၂၈၀,၀၀၀</td><td></td></tr>
</table>
</td></tr>
<tr><td></td><td>စီမံခန့်ခွဲရေး</td><td>
<table>
<tr><th></th><th></th><th>ပြည်တွင်း</th><th>ပြည်ပ</th></tr>
<tr><td>ဦးရေ</td><td></td><td>၁၂၅ ဦး</td><td>-</td></tr>
<tr><td>အမြင့်ဆုံးလစာ</td><td>ကျပ်</td><td>၂,၆၀၀,၀၀၀</td><td></td></tr>
<tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ်</td><td>၁၈၀,၀၀၀</td><td></td></tr>
</table>
</td></tr>
<tr><td>၉။</td><td>အခြားတင်ပြချက်</td><td>- ငွေကြေးအထောက်အထားအဖြစ် AYA Bank တွင် ACK and CO Services Co., Ltd. အမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်စွဲတွင် ကျပ် ၂၇၀,၆၈၆,၇၈၅.၆၂ ရှိကြောင်း၊ AGD Bank တွင် ၃၀-၁၁-၂၀၁၈ ရက်စွဲဖြင့် ACK and CO Services Co., Ltd. အမည်ဖြင့် ကျပ် ၁၀,၆၃၆,၁၅၆.၁၃ ရှိကြောင်း တို့ကို တင်ပြထားပါသည်။<br>- သင်ကြားနေသည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် သင်ရိုးညွှန်းတမ်းများအား တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - Strategy First Institute နှင့် Stamford International University ချုပ်ဆိုထားသည့် Academic Program Service Agreement၊ Heriot Watt University နှင့် ချုပ်ဆိုထားသည့် Approved Learning Partner Agreement၊ Oxford Brookes University နှင့် ချုပ်ဆိုထားသည့် Learning Partnership Agreement၊ Edinburgh Business School နှင့် ချုပ်ဆိုထားသည့် Learning Partner Agreement၊ Pearson UK မှ ခွင့်ပြုထားသည့် အသိအမှတ်ပြုလက်မှတ်တို့ကို တင်ပြထားပါသည်။<br>- The Association of Business Executives (abe) နှင့် ချုပ်ဆိုထားသည့် စာချုပ်၊ The Institute of Commercial Management (ICM) နှင့် ချုပ်ဆိုထားသည့် MoU စာချုပ်၊ Scottish Qualifications Authority နှင့် ချုပ်ဆိုထားသည့် Centre Operating Agreement နှင့် NCC Education Limited မှ ခွင့်ပြုထားသည့် စင်တာအမှတ်တို့အား တင်ပြထားပါသည်။<br>- အခန်းပိုင်ဆိုင်မှု အထောက်အထားများနှင့် အခန်းငှားရမ်းခြင်းစာချုပ်တို့အား တင်ပြထားပါသည်။<br>- အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေပြင်ဆင်ချက်(၂၀၁၅)နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်တို့အား တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် Strategy First Institute အမည်ဖြင့် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများကို ၂၀၁၀ ခုနှစ်ကပင် စတင်ဆောင်ရွက်ခဲ့ကြောင်း တွေ့ရှိရပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-ဝ၂၆/ ၂ဝ၁၉(၁၉၆)

ရက်စွဲ၊ ၂ဝ၁၉ ခုနှစ် မတ် လ ၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ACK and CO Services Co., Ltd. မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ACK and CO Services Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီးနှင့် စစ်ကိုင်းတိုင်းဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုလျှောက်ထားလွှာနှင့်အတူ ACK and CO Services Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်များ၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ခန့်အပ်ထားသည့် ဆရာ/ဆရာမများ၏ ပညာအရည်အချင်းအထောက်ထားများ၊ Stamford International University၊ Heriot Watt University၊ Oxford Brookes University၊ Edinburgh Business School တို့နှင့် ချုပ်ဆိုထားသည့် စာချုပ်များနှင့် Pearson UK မှ ခွင့်ပြုထားသည့် အသိအမှတ်ပြုလက်မှတ်တို့ကို တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁,၈၅၄.၇၄၄ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** | |
|---|---|---|
| ငွေသား | ၅ဝဝ.ဝဝ | |
| ရုံးသုံးပစ္စည်း | ၄၅၉.၂၅၃ | |
| ပရိဘောဂပစ္စည်း | ၆၁ဝ.၆၈၄ | (အမေရိကန်ဒေါ်လာ ဝ.၃၄၆ သန်း အပါအဝင်) |
| စက်ပစ္စည်းကိရိယာ | ၇၃.၁၆ဝ | |
| မော်တော်ကား | ၂၁၁.၆၄၇ | |
| **စုစုပေါင်း** | ၁,၈၅၄.၇၄၄ | (အမေရိကန်ဒေါ်လာ ဝ.၃၄၆ သန်း အပါအဝင်) |

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၃၈ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းခန့်ထားခြင်းမရှိပါ။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၅၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၁၂၅ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။ ပြည်တွင်းဝန်ထမ်း ၁ ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၈၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၆၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | သင်တန်းကာလ(လ) | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|
| (က) | Construction Project Management | ၁၈ | ၁၂,၀၀၀,၀၀၀ |
| (ခ) | MBA & MSc | ၁၈ | ၁၈,၀၀၀,၀၀၀ |
| (ဂ) | Signature MBA | ၁၈ | ၁၂,၀၀၀,၀၀၀ |
| (ဃ) | BA (Hons) Business and Management | ၁၂ | ၁၀,၅၀၀,၀၀၀ |
| (င) | ICM Diploma | ၆ | ၄၆၅,၀၀၀ |
| (စ) | CICM Diploma | ၆ | ၄၆၅,၀၀၀ |
| (ဆ) | Diploma in Business IT | ၂၄ | ၆,၆၀၀,၀၀၀ |
| (ဇ) | Higher National Diploma in Business | ၂၄ | ၆,၆၀၀,၀၀၀ |
| (ဈ) | Higher National Diploma in Civil Engineering | ၂၄ | ၇,၂၀၀,၀၀၀ |
| (ည) | ABE-Diploma in Business Management | ၆ | ၂,၆၅၀,၀၀၀ |
| (ဋ) | English Subject Courses | ၃ | ၂၄၀,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။ **(နောက်ဆက်တွဲ)**

၇။ ငွေကြေးအထောက်အထားအဖြစ် AYA Bank တွင် ACK and CO Services Co., Ltd. အမည်ဖြင့် ၃၀-၁၁-၂၀၁၈ ရက်စွဲတွင် ကျပ် ၂၇၀,၆၈၆,၇၈၅.၆၂ ရှိကြောင်း၊ AGD Bank တွင် ၃၀-၁၁-၂၀၁၈ ရက်စွဲဖြင့် ACK and CO Services Co., Ltd. အမည်ဖြင့် ကျပ် ၁၀,၆၃၆,၁၅၆.၁၃ ရှိကြောင်းတို့ကို တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် Strategy First Institute အမည်ဖြင့် ၂၀၁၀ ခုနှစ်ကပင် ပညာရေး ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိသော လုပ်ငန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ACK and CO Services Co., Ltd. မှ ပညာရေး ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပညာရေးဝန်ကြီးဌာန

ဝန်ကြီးရုံး

စာအမှတ် ၊ မူဝါဒ(သဘောထားမှတ်ချက်)၁၈၆/၂၀၁၉( ၂၂၆၇ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၅-၁-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၅ (အ) / ခ - ၀၂၆ / ၂၀၁၈ (၁၄၀)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၀)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ACK and CO Services Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မန္တလေးတိုင်းဒေသကြီးနှင့် စစ်ကိုင်းတိုင်းဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါ စာဖြင့်လည်းကောင်း၊ အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ သဘောထားမှတ်ချက်ကို ရည်ညွှန်း(၃)ပါစာဖြင့်လည်းကောင်း ပေးပို့ခဲ့ပြီးဖြစ် ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိကကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံများနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံးနေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေး ဝန်ကြီးဌာနသို့ အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါရန် ပြန်ကြားခဲ့ပါသည်-

ဒေါက်တာကျော်နိုင်

ဒုတိယအမြဲတမ်းအတွင်းဝန်

ပညာရေးဝန်ကြီးဌာန

ဖုန်း- ဝ၆၇ ၄ဝ၇၁၁၆

အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါကိစ္စနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့်ပညာရေးဝန်ဆောင်မှုဆိုင်ရာလုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
4-2-19

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ/ မျှောစာတွဲ